ပုံစံ (မနသ-၂)
စာအမှတ် [illegible]
ရက်စွဲ ၃-၁၀-၂၀၁၆

# ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်

## မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

## ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ်၊ မနသ ၁၂၁၅ /၂၀၁၆ ၂၀၁၆ ခုနှစ် အောက်တိုဘာ လ ၃ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂(ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်-

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဦးစိုးမြင့်

(ခ) **အဘအမည်** ဦးအောင်ခင်

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၁၂/လသန(နိုင်) ၀၁၅၀၀၆

(ဃ) **နေရပ်လိပ်စာ** အမှတ်-၁၂၅၊ ဒု-လွှာ၊ ၁၉-လမ်း၊ လသာမြို့နယ်၊ ရန်ကုန်မြို့

(င) **ဖွဲ့စည်းထားသည့်သို့မဟုတ်ဖွဲ့စည်းမည့်အဖွဲ့အစည်း** ပစိဖိတ်ဖုဒ်(ဒ်)အင်ဒတ်စ်ထရီး(စ်) လီမိတက် (PACIFIC FOOD INDUSTRIES LIMITED)

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်းအမျိုးအစား** နို့ထွက်ပစ္စည်းများထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** မြေကွက်အမှတ်(၈၃)၊ လှိုင်သာယာစက်မှုဇုန်အပိုင်း(၃)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိမြေ ဧရိယာ ၂.၀၁၁ ဧက

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ကျပ် ၅၉၄၆.၇၄ သန်း (အမေရိကန်ဒေါ်လာ ၃.၈၂၇ သန်း အပါအဝင် ကျပ်ငါးထောင်ကိုးရာ လေးဆယ့်ခြောက်သန်း ခုနှစ်သိန်း လေးသောင်း တိတိ)

(ဈ) **တည်ဆောက်မှုကာလ** ၁၂ လ

(ည) **ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုသည့် သက်တမ်း** ၃၀ နှစ်

3.10.16

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**

အမိန့်ကြော်ငြာစာအမှတ်၊ ၁၁၀ / ၂၀၁၆ (မနသ)

၂၀၁၆ ခုနှစ် အောက်တိုဘာ လ ၂ ရက်

၁။ ပစိဖိတ်ဖုဒ်(ဒ်)အင်ဒတ်စ်ထရီး(စ်)လီမိတက်(PACIFIC FOOD INDUSTRIES LIMITED) သည် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ လှိုင်သာယာစက်မှုဇုန်အပိုင်း(၃)၊ မြေကွက်အမှတ် (၈၃) ရှိ မြေဧရိယာ (၂.၀၁၁) ဧက အားငှားရမ်း၍ နို့ထွက်ပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးစိုးမြင့် (အဘ-ဦးအောင်ခင်) မှ မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုတင်ပြချက်အား ၂၀၁၆ ခုနှစ် စက်တင်ဘာ လ ၂၃ ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၈ /၂၀၁၆) ကြိမ်မြောက် အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။

၂။ အဆိုပါအစည်းအဝေးဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂(ခ) အရ အပ်နှင်းထားသောလုပ်ပိုင်ခွင့်များကို ကျင့်သုံးလျှက် ပစိဖိတ်ဖုဒ်(ဒ်)အင်ဒတ်စ်ထရီး(စ်)လီမိတက်(PACIFIC FOOD INDUSTRIES LIMITED)အား နို့ထွက်ပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ- ၁၂၁၅ /၂၀၁၆ ကို ထုတ်ပေးလိုက် သည်။

၃။ ပစိဖိတ်ဖုဒ်(ဒ်)အင်ဒတ်စ်ထရီး(စ်)လီမိတက်(PACIFIC FOOD INDUSTRIES LIMITED) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၁၀) အရ အောက်ပါကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(ဃ) အရ လုပ်ငန်းမှ ထုတ်လုပ်သည့် ပစ္စည်းကို ပြည်ပသို့ တင်ပို့ ရောင်းချလျှင် ထိုသို့ တင်ပို့ရောင်းချ၍ ရရှိသော အမြတ်ငွေပေါ်တွင် ၅၀ ရာခိုင်နှုန်း အထိ ဝင်ငွေခွန် သက်သာခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဇ) အရ ဝင်ငွေခွန်စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်း စက်ကိရိယာ၊ အဆောက်အအုံ သို့မဟုတ် လုပ်ငန်းသုံးအခြားမတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်ကသတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုး လျှော့တွက်နှုန်းများ အတိုင်း

တွက်ချက်ပြီး ပစ္စည်းတန်ဖိုးလျော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုး လျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(ည) အရ ရင်းနှီးမြှုပ်နှံမှု ပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ်အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင်တန်ဆာပလာများ၊ စက်ကိရိယာအစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်းအခွန်အကောက်များကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၄။ ပစိဖိတ်ဖု(ဒ်)အင်ဒတ်စ်ထရီး(စ်)လီမိတက်(PACIFIC FOOD INDUSTRIES LIMITED) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထား သည့် **ထုတ်လုပ်မှု ရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်းချက်များ** အဖြစ် ထားရှိဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ ပစိဖိတ်ဖု(ဒ်)အင်ဒတ်စ်ထရီး(စ်)လီမိတက်(PACIFIC FOOD INDUSTRIES LIMITED) သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထား ရှိရမည်။

၆။ အဆိုပြုလုပ်ငန်းဆောင်ရွက်ရန်အတွက် ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ပြနှင့်အိမ်ယာဖွံ့ဖြိုးရေးဦးစီးဌာနနှင့် ပစိဖိတ်ဖု(ဒ်)အင်ဒတ်စ်ထရီး(စ်)လီမိတက်(PACIFIC FOOD INDUSTRIES LIMITED) တို့အကြားလက်မှတ်ရေးထိုးထားသည့် မြေငှားရမ်းခြင်း သဘောတူစာချုပ်ကို ထိုက်သင့်သော တံဆိပ်ခေါင်းခွန်များ ထမ်းဆောင်ပြီးသည့်အခါ ယင်းသဘောတူစာချုပ် စာချုပ်မိတ္တူ(၅)စောင်ကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့တင်ပြရမည်။

၇။ အဆိုပြုလုပ်ငန်းဆောင်ရွက်ရန်အတွက် ငှားရမ်းခြင်း သက်တမ်းကာလမှာ (၁၀-၁-၁၉၉၇) နေ့မှစ၍ ကနဦးနှစ်(၃၀) နှင့် တစ်ကြိမ်လျှင်(၁၀)နှစ် သက်တမ်းဖြင့်(၂)ကြိမ် တိုးမြှင့်နိုင်သည်။ မြေငှားရမ်းခမှာ တစ်နှစ်လျှင် အမေရိကန်ဒေါ်လာ ၄၀,၆၉၁.၁၇ နှုန်းဖြစ်သည်။ မြေငှားရမ်းခနှုန်းသည် ကနဦးနှစ် (၂၀)မြေငှား စာချုပ်၏သက်တမ်းကုန်ဆုံးရက် (၉-၁-၂၀၁၇) ရက်နေ့မှစ၍ တစ်စတုရန်း မီတာလျှင် အမေရိကန်ဒေါ်လာ ၅ ဒေါ်လာ နှုန်းဖြင့်ပေးသွင်းရန်ဖြစ်ပါသည်။

၈။ ပစိဖိတ်ဖု(ဒ်)အင်ဒတ်စ်ထရီး(စ်)လီမိတက်(PACIFIC FOOD INDUSTRIES LIMITED) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမရှိစေရေး အတွက်

စီမံကိန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် ကုန်ထုတ်လုပ်မှု နည်းစနစ်များ အသုံးပြုခြင်းနှင့် အဆိုပြုလွှာတွင်ပါဝင်သည့် လူမှုရေးဆိုင်ရာ တာဝန်ခံမှု (CSR) လုပ်ငန်းများအတွက် အသားတင်အမြတ်ငွေ၏ (၂%) အား အသုံးပြုခြင်းတို့ အပါအဝင် ကတိကဝတ်များနှင့် လုပ်ငန်းစီမံချက်များအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်သွားရန်၊ စွန့်ပစ်ပစ္စည်းများအား စနစ်တကျ စွန့်ပစ်မည့် အစီအစဉ် များပါဝင်သော စွန့်ပစ်ပစ္စည်း စီမံခန့်ခွဲမှု အစီအစဉ်၊ လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှု နည်းပညာများ၊ လုပ်ငန်းအစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စောင့်ကြပ် ကြည့်ရှုမည့်အစီအစဉ်များစသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်(Environmental Management Plan-EMP)ကို ရေးဆွဲတင်ပြရန်နှင့် EMP အစီအစဉ်ပါ အတိုင်း အကောင်အထည်ဖော်လိုက်နာဆောင်ရွက်ရ မည်။

၉။ ပစိဖိတ်ဖု(ဒ်)အင်ဒတ်စ်ထရီး(စ်)လီမိတက်(PACIFIC FOOD INDUSTRIES LIMITED) သည် ထုတ်လုပ်မှုနည်းပညာ၊ ထုတ်လုပ်မှုအရည်အသွေး၊ Trade Mark ကုန်ပစ္စည်းအမှတ် တံဆိပ် အမည်/ အမှတ်အသား၊ ဈေးကွက်ပိုင်း ဆိုင်ရာတို့နှင့်စပ်လျဉ်း၍ အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရမည်။ ၎င်းအပြင် သက်ဆိုင်ရာဌာနများ၏ ညွှန်ကြားချက်များ အတိုင်း လိုက်နာဆောင်ရွက်ရမည်။

၁၀။ ပစိဖိတ်ဖု(ဒ်)အင်ဒတ်စ်ထရီး(စ်)လီမိတက်(PACIFIC FOOD INDUSTRIES LIMITED) မှ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများခန့်ထားရာတွင် အလုပ် သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ ထို့အပြင်အလုပ်ရှင်နှင့် အလုပ်သမားဆက်ဆံရေး ပြေလည်စေရန် အလေးထားဆောင်ရွက်ရမည်။ လုပ်ငန်းခွင်သာယာရေးနှင့် စာရင်းဇယား စနစ်တကျရှိစေရေး အတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဉ်ဆောင်ရွက်ရမည်။

၁၁။ ပစိဖိတ်ဖု(ဒ်)အင်ဒတ်စ်ထရီး(စ်)လီမိတက်(PACIFIC FOOD INDUSTRIES LIMITED) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ မီးဘေးအန္တရာယ်စသည်များ မဖြစ်ပေါ်စေရေးအတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံ ကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ ဥပဒေများ၊ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့် အမိန့်များကိုတိကျစွာ လိုက်နာ

ဆောင်ရွက်ရမည်။ ထို့အပြင်ရေသိုလှောင်ကန်၊ မီးသတ်ဆေးဘူးများကဲ့သို့ မီးဘေး အန္တရာယ်ကြိုတင်ကာကွယ်မှု ဆောင်ရွက်ချက်များကို ဆောင်ရွက်ရမည်ဖြစ်ပြီး မီးငြိမ်းသတ်ရေး လုပ်ငန်းသုံးပစ္စည်းများ အသုံးပြုတတ်စေရန်အတွက် သင်တန်းများပေးရမည်။

၁၂။ ပစိဖိတ်ဖုဒ်)အင်ဒတ်စ်ထရီး(စ်)လီမိတက်(PACIFIC FOOD INDUSTRIES LIMITED) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင်လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှုများ မဖြစ်ပေါ်စေရေးအတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိ ပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးမူဝါဒ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ အခြားသောပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာနည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှုအခြေ အနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၃။ ပစိဖိတ်ဖုဒ်)အင်ဒတ်စ်ထရီး(စ်)လီမိတက်(PACIFIC FOOD INDUSTRIES LIMITED) သည် ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေအရ ပြည်နယ်/တိုင်းဒေသကြီး စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်ထားရှိ ဆောင်ရွက်ရမည်။

၁၄။ ပစိဖိတ်ဖုဒ်)အင်ဒတ်စ်ထရီး(စ်)လီမိတက်(PACIFIC FOOD INDUSTRIES LIMITED) သည် အဆိုပြုလုပ်ငန်းအား ကျန်းမာရေးဦးစီးဌာန၏ ထောက်ခံချက်၊ အစားအသောက်နှင့် ဆေးဝါးကွပ်ကဲရေး ဦးစီးဌာနတို့၏ ထောက်ခံချက်တို့ကို ရယူဆောင်ရွက် ရမည်။

၁၅။ ပစိဖိတ်ဖုဒ်)အင်ဒတ်စ်ထရီး(စ်)လီမိတက်(PACIFIC FOOD INDUSTRIES LIMITED) သည် ကနဦး လုပ်ငန်းဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး (သုံး)လအတွင်း ဤ ကော်မရှင်သို့ **မပျက်မကွက်**အစီရင်ခံရမည်။ ထို့ပြင်လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေ များကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင် ခံရမည်။

၁၆။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် နေရပ်ဒေသလိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်) တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၇။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြားအဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးထားသော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာ ဌာနများမှ ထုတ်ပေးထားသော လုပ်ငန်း လိုင်စင်များနှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှတင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့်လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ အဆိုပြုလုပ်ငန်းကို နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြားအဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့်၊ လုပ်ငန်း လိုင်စင်များနှင့် ပြည်ပမှတင်သွင်းသည့်ပစ္စည်းများကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း၊ ရောင်းချကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင်လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့်ညှိနှိုင်း ဆောင်ရွက်မည့်အပြင်လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၃၂ (င) အရ နောင်တွင် မည်သည့်ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက်စီးပွားရေး လုပ်ငန်းစာရင်း၌ ထည့်သွင်းသည်အထိ အရေးယူခြင်းခံရမည်။

၁၈။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

(signature) 3.10.16

(ကျော်ဝင်း)
ဥက္ကဋ္ဌ

စာအမှတ်၊ မရက- ၂ / မ- ၂၄၄ / ၂၀၁၆ ( ၅၂၄ - ၈ )
ရက်စွဲ ၊ ၂၀၁၆ ခုနှစ် အောက်တိုဘာလ ၃ ရက်

**ဖြန့်ဝေခြင်း**

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး
ပြည်ထဲရေးဝန်ကြီးဌာန
ပြန်ကြားရေးဝန်ကြီးဌာန
သယံဇာတနှင့် သဘာဝ ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာန
လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန

အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန

စက်မှုဝန်ကြီးဌာန

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန

စီမံကိန်းနှင့် ဘဏ္ဍာရေး ဝန်ကြီးဌာန

ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး

ညွှန်ကြားရေးမှူးချုပ်၊ အစားအသောက်နှင့် ဆေးဝါးကွပ်ကဲမှုဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆေးဝါးလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ မြို့ပြနှင့် အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများ မော်ကွန်းတိုက် ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန

အုပ်ချုပ်မှုဒါရိုက်တာ ၊ ပစိဖိတ်ဖု(ဒ်)အင်ဒတ်စ်ထရီး(စ်)လီမိတက် (PACIFIC FOOD INDUSTRIES LIMITED)